

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်




## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-.....၄၃၂..../၂၀၀၀။ ၂၀၀၀ ပြည့်နှစ်၊ စက်တင်ဘာ လ ၂၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ........ ဦးဝံမြင့် ........

(ခ) အဘအမည် ........ ဦးမြင့်ကြည် ........

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/တမန(နိုင်)၀၇၃၉၉၇ ........

(ဃ) နေရပ်လိပ်စာ ....အမှတ်-၂၊ ဒဂုံလွင်လမ်း၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့........

........................................................................

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း စုစည်းကမ္ဘာ့အထည်ချုပ်လုပ်ငန်း ကုမ္ပဏီလီမိတက် ( United World Garment Manufacturing Co.,Ltd)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား C M P စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်း ........ လုပ်ငန်း ........

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ် ၄၁ (က/ခ)၊ မြေတိုင်းရပ်ကွက်၊ အမှတ် (၄၂)၊ ရွှေပြည်သာစက်မှုဇုန် (၁)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်း

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၂၅.၇၀) သန်း (ကျပ်နှစ်ဆယ့်ငါး သန်း ခုနစ်သိန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လျှို့ဝှက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့် ကြော်ငြာစာအမှတ်၊ ၃၆၈ /၂၀၀၀ (မနသ)

ရန်ကုန်မြို့၊ ၁၃၆၂ ခုနှစ်၊ သီတင်းကျွတ်လဆန်း ၁ ရက်

(၂၀၀၀ ပြည့်နှစ်၊ စက်တင်ဘာလ ၂၈ ရက် )

၁။ မြန်မာ ကုမ္ပဏီဖြစ်သော စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (United World Garment Manufacturing Co., Ltd.) မှ ဒေါ်ခင်စန်းကြူနှင့် ဦးမြင့်ရွှေတို့၏ အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (၄၂)၊ (စက်မှုဇုန်) မြေကွက်အမှတ် ၄၅(က နှင့် ခ) ရှိ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် မြေဧရိယာ စုစုပေါင်း (၁.၃၇၈) ဧက (၅၅၇၆.၅၇၃ စတုရန်းမီတာ) ပေါ်ရှိ မြေနှင့် အဆောက်အဦကို ငှားရမ်း၍ CMPစနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၄-၈-၂၀၀၀)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၉/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၈-၉-၂၀၀၀)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၁၁/၂၀၀၀)ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၂၁-၉-၂၀၀၀)နေ့တွင် ကျင်းပ ပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၃၆/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (United World Garment Manufacturing Co., Ltd.)အား CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၄၃၂/၂၀၀၀ ကို ထုတ်ပေးလိုက်သည်။

၂။ စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (United World Garment Manufacturing Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက် များနှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန် လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြား ငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစား နိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထား ရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက်

ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါလုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ် ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထား ရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေ ကို သတ်မှတ် သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန် တကယ်လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက် များကို ကင်းလွတ် ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ် အတွက်ကုန်ထုတ်လုပ်ရန် ပြည်ပမှတင်သွင်းသည့်လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

(ဇ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေး ချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည် တို့နှင့်စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့်တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည် ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (United World Garment Manufacturing Co., Ltd.) သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပ ချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေး ချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ် သည့်အခါ အဆိုပြု လုပ်ငန်းမှရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှစက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်းမရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (United World Garment Manufacturing Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှုရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များအဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၇။ စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (United World Garment Manufacturing Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၈။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေနှင့်အဆောက်အဦ အငှါးချထားသူ ဒေါ်ခင်စန်းကြူ/ဦးမြင့်ရွှေနှင့် အငှါးချထားခြင်းခံရသူ စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (United World Garment Manufacturing Co., Ltd.) တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှါးရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၀။ စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (United World Garment Manufacturing Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤ ကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၁။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၂။ စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (United World Garment Manufacturing Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေးအစီအမံများကို ဝန်ခံဂတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (United World Garment Manufacturing Co., Ltd.)သည် ပူးတွဲပါကနဦးလုပ်ငန်း ဆောင်ရွက်မှုအစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့မပျက်မကွက် အစီရင်ခံရမည်။

၁၄။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၅။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၁/မ-၆၂၆/၂၀၀၀ (၂၀၉၀-၈)
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ စက်တင်ဘာလ ၂၈ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၃။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။
၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။

၂၆။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၈။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၉။ အုပ်ချုပ်မှု ဒါရိုက်တာ၊ စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (United World Garment Manufacturing Co., Ltd.)။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၁၆၈/၂၀၀၀ (၂၄၅၇-၉) ။
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ ဩဂုတ်လ ၃၁ ရက်။

## ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက်မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (United World Garment Manufacturing Co., Ltd.) မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၄-၈-၂၀၀၀)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၉/၂၀၀၀) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေ့ဆိုင်းငွေပေးချေခြင်း စနစ် သဘောတူစာချုပ် (မူကြမ်း)နှင့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)တို့ကို နောက်ဆက်တွဲ(၁) အဖြစ် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၂၀)သန်း အပါအဝင် စုစုပေါင်း ကျပ် (၂၅.၇၀)သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသား ကျပ် (၁၅.၀၀)သန်း၊ စက်ပစ္စည်းကိရိယာ တန်ဖိုး ကျပ် (၇.၂၀)သန်း {အမေရိကန်ဒေါ်လာ (၁.၂၀)သန်း}၊ ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း တန်ဖိုး ကျပ် (၃.၅၀)သန်း ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်းများကို ဟောင်ကောင်ရှိ Great Capital Garment Ltd. ထံမှ ရွှေ့ဆိုင်းငွေပေးချေခြင်း စနစ်ဖြင့် အတိုးမဲ့ ရယူမည်ဖြစ်ပြီး (၃)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ဒေါ်ခင်စန်းကြူနှင့် ဦးမြင့်ရွှေတို့၏ အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြေကွက်အမှတ် ၄၅(က/ခ)၊ မြေတိုင်းအမှတ် ၄၂၊ ရွှေပြည်သာစက်မှုဇုန် (၁)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းရှိမြေ (၁.၃၇၈) ဧက (၅၅၇၆.၅၇၃ စတုရန်းမီတာ) ပေါ်ရှိ မြေနှင့် အဆောက်အဦကို ငှားရမ်းအသုံးပြု၍ လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းမှ ထုတ်လုပ်သည့် အထည်များကို CMP စနစ်အရ ပြည်ပသို့ (၉၅) ရာခိုင်နှုန်းနှင့် ပြည်တွင်းတွင် (၅) ရာခိုင်နှုန်း ရောင်းချမည်ဖြစ်ပြီး ပုံမှန်နှစ်ရှိ ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်း များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု ဒါဇင်(ထောင်ပေါင်း) | CMP ချုပ်ခနှုန်း (US $/Dozen) | ပြည်တွင်း ရောင်းဈေးနှုန်း (ကျပ်/ဒါဇင်) |
|---|---|---|---|---|
| ၁။ | Shirt | ၄၀ | ၆.၀ | ၇၉၃၈ |
| ၂။ | Jacket | ၅ | ၁၀.၀ | ၁၃၂၃၀ |
| ၃။ | Pants | ၁၀ | ၅.၀ | ၁၁၀၂၅ |
| ၄။ | T-Shirts, Polo Shirt | ၁၅၀ | ၃.၅ | ၄၄၁၀ |
| ၅။ | Blouse, Skirt | ၅၀ | ၃.၅ | ၃၈၆၀ |
| ၆။ | Coat | ၅ | ၁၂.၀ | ၁၉၈၄၅ |

၅။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်–

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၇၂.၃၈ | ၆.၂၇ | ၇၈.၆၅ |
| (ခ) | အသုံးစရိတ် | ၇၁.၃၆ | ၁.၄၅ | ၇၂.၈၁ |
| (ဂ) | အသားတင်အမြတ် | ၁.၀၂ | ၄.၈၂ | ၅.၈၄ |

၆။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ်နှင့် (၁၁)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၈.၇၉)ရာခိုင်နှုန်း ဖြစ်ပါသည်။

၇။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(က) ဝင်ငွေခွန်
ကျပ် ၀.၄၄ သန်း
အမေရိကန်ဒေါ်လာ ၀.၁၄ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန်
ကျပ် ၆.၅၈ သန်း

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၇၀၂)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၅)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အမှတ် (၁) စက်မှု ဝန်ကြီး ဌာနသို့ သဘောထားမှတ်ချက် တောင်းခံရာ ကန့်ကွက်ရန်မရှိပါကြောင်းနှင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ မှတ်ပုံတင် ဆောင်ရွက်ခြင်း မရှိသေးပါကြောင်း အကြောင်းပြန်ကြားလာပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန် အတွက် ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ စက်ပစ္စည်းအသစ်များကိုသာ ဝယ်ယူတင်သွင်းပြီး ပြန်လည်ပေးဆပ်သည့်အခါ အဆိုပြုလုပ်ငန်းမှ ရရှိသည့် CMP ချုပ်ခဖြင့်သာ ပေးဆပ်မည်ဖြစ်ကြောင်း၊ ချေးငွေရယူခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ငွေချေးသူ၏တာဝန်သာဖြစ်ကြောင်းနှင့် ယင်းလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၂။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက်မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

၁၃။ <u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။</u>

ကုန်သွယ်မှု မူဝါဒ ကော်မတီ၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

<u>ကုန်သွယ်မှု မူဝါဒ ကော်မတီ။</u>

ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (United World Garment Manufacturing Co., Ltd.) | ၁။ ဦးရဲမြင့် (ဒါရိုက်တာ) | အမှတ်–၂၊ ဒဂုံလွင်လမ်း၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဦးစိန်ဝင်း (ဒါရိုက်တာ) | အမှတ် –၂၉၊ (၉)လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဦးမြင့်ရွှေ (ဒါရိုက်တာ) | အမှတ် ၉၈(ခ)၊ နှင်းဆီကုန်းလမ်း၊ အလုံမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၄။ ဦးသန်းအောင် (ဒါရိုက်တာ) | အမှက် ၃၅၊ အိမ်ကြီးလမ်း၊ ရေကျော်၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၅။ ဦးဇော်မင်းဦး (ဒါရိုက်တာ) | အမှတ် (၅၇)၊ အခန်း (၇)၊ (၄၆) လမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၆။ ဦးမြတ်မင်း (ဒါရိုက်တာ) | အမှတ် (၅၇)၊ အခန်း (၄)၊ (၄၆) လမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၇။ ဦးအောင်ဝင်း (ဒါရိုက်တာ) | အမှတ် (၅၇)၊ အခန်း (၁)၊ (၄၆) လမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၈။ ဒေါ်ပုလဲသူဇာ (ဒါရိုက်တာ) | အမှတ် (၅၇)၊ အခန်း (၇)၊ (၄၆) လမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ |

လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏ အဓိကအချက်များ
(မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | စုစည်း ကမ္ဘာ့အထည်ချုပ်လုပ်ငန်းကုမ္ပဏီလီမိတက်<br>(United World Garment Manufacturing Co., Ltd.)<br>(၂၆-၇-၂၀၀● နေ့တွင်မှတ်ပုံတင်ပြီး) |
| ၂ | လုပ်ငန်းအဆိုပြုသူအမည် | ဦးရဲမြင့် |
| ၃ | အဆိုပြုလုပ်ငန်းအမျိုးအစား | C.M.P စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်းလုပ်ငန်း |
| ၄ | တည်နေရာ | မြေကွက်အမှတ်၄၅(က/ခ) မြေတိုင်းအမှတ်-၄၂၊ ရွှေပြည်သာစက်မှုဇုန်(၁)၊ ရွှေပြည်သာမြို့နယ် |
| ၅ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၂၅.၇●သန်း (US$ ၁.၂၀သန်း အပါအဝင်) |
| | - ငွေပမာဏ | ကျပ် ၁၅.၀၀သန်း |
| | - စက်ပစ္စည်းကိရိယာ | ကျပ် ၇.၂၀သန်း (US$ ၁.၂၀သန်း) |
| | - ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းတန်ဖိုး | ကျပ် ၃.၅●သန်း |
| ၆ | မြေအကြောင်းအရာ | |
| | - မြေအကျယ်အဝန်း | ၁.၃၇●ဧက (၅၅၇၆.၅၇၃စတုရန်းမီတာ) |
| | - မြေပိုင်ဆိုင်မှု | မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနထံမှ ဒေါ်ခင်စန်းကြူနှင့်ဦးမြင့်ရွှေတို့၏အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသောမြေနှင့်အဆောက်အဦကိုငှါးရမ်းအသုံးပြုမည်ဖြစ်ပါသည်။ |
| | - မြေအမျိုးအစား | စက်မှုမြေ |
| ၇ | ထုတ်လုပ်မှု(ပုံမှန်နှစ်) | ဒီဇိုင်း(၁●၀) |
| | - Shirt | ၄● |
| | - Jacket | ၅ |
| | - Pants | ၁၀ |
| | - T.Shirt, Polo Shirt | ၁၅၀ |
| | - Blouse, Skirt | ၅၀ |
| | - Coat | ၅ |

| | | | |
|---|---|---|---|
| ၈ | ရောင်း ချမည့်နည်း စနစ် | | |
| | -ပြည်တွင်း | ၅% | |
| | - C.M.P စနစ်အရ | ၉၅% | |
| ၉ | ရောင်း ဈေး နှုန်း (ပုံမှန်နှစ်) | C.M.P ချုပ်ခ ( US$ / Dozen) | ပြည်တွင်းရောင်း ( Kyat/Dozen) |
| | - Shirt | ၆.၀ | ၇၉၃၀ |
| | - Jacket | ၁၀.၀ | ၁၃၂၃၈ |
| | - Pants | ၅.၀ | ၁၁၀၂၅ |
| | - T.Shirts, Polo Shirt | ၃.၅ | ၄၄၁၈ |
| | - Blouse, Skirt | ၃.၅ | ၃၀၆၀ |
| | - Coat | ၁၂.၀ | ၁၉၀၄၅ |
| ၁၀ | ဝင်ငွေ (ပုံမှန်နှစ်) | ကျပ် ၇၂.၃၀ သန်း | |
| | | US$ ၁.၈၅ သန်း | |
| ၁၁ | အသားတင်အမြတ် (ပုံမှန်နှစ်) | ကျပ် ၁.၀၂ သန်း | |
| | | US$ ၀.၀၀ သန်း | |
| ၁၂ | အရင်း ကြေကာလ | (၃) နှစ်နှင့် (၁၁) လ | |
| ၁၃ | အရင်း အနှီး အပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | ( -၂၀.၇၉ ) ရာခိုင်နှုန်း | |
| ၁၄ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့်အကျိုး အမြတ် | | |
| | - ဝင်ငွေခွန် | ကျပ် ၀.၄၄ သန်း | |
| | | US$ ၀.၁၄ သန်း | |
| | - ကုန်သွယ်လုပ်ငန်း ခွန် | ကျပ် ၆.၅၀ သန်း | |
| ၁၅ | ဝန်ထမ်း အင်အား | ၇၀၇ ဦး | |
| | - ပြည်တွင်း | ၇၀၂ ဦး | |
| | - ပြည်ပ | ၅ ဦး | |
| ၁၆ | တည်ဆောက်မှုကာလ | (၃) လ | |

| | | |
|---|---|---|
| ၁၇ | အခြား | - စက်ပစ္စည်းများကို ဟောင်ကောင်ရှိ Great Capital Garment Ltd. ထံမှ ရွှေ့ဆိုင်းငွေပေးချေခြင်း စနစ်ဖြင့်အတိုးမဲ့ ရယူမည်ဖြစ်ပြီး (၃) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။<br>- စက်ပစ္စည်းစာရင်းကို ပူးတွဲတင်ပြထားပါသည်။<br>- ယင်းလုပ်ငန်းသည်မြန်မာနိုင်ငံသားများသာ လျှင်ပိုင်ဆိုင်ပြီး နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှု မရှိကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့်မီး ဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှသတ်မှတ်ပြဋ္ဌာန်း မည့်စည်းကမ်းသတ်မှတ်ချက်များကိုလိုက်နာဆောင် ရွက်မည်ဖြစ်ကြောင်း၊ စက်ပစ္စည်းအသစ်များကို သာဝယ်ယူတင်သွင်းပြီး ပြန်လည်ပေးဆပ်သည့်အခါ အဆိုပြုလုပ်ငန်းမှရရှိသည့် CMP ချုပ်ခဖြင့်သာ ပေးဆပ်မည်ဖြစ်ကြောင်း၊ ချေးငွေယူခြင်း သည်နိုင်ငံတော်နှင့်သက်ဆိုင်ခြင်းမရှိဘဲ ငွေချေး သူ၏တာဝန်သာဖြစ်ကြောင်းနှင့်ယင်းလုပ်ငန်း သည်လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုထား ပါသည်။<br>- ယင်းလုပ်ငန်း၏ငွေကြေးဆိုင်ရာအထောက်အထား အဖြစ်ကမကထပြုသူဦး ရဲမြင့်အမည်ဖြင့်အာ.ဂျမနေဘဏ် လီမိတက်၌ (၂၄-၇-၂၀၀၀) နေ့ ငွေလက်ကျန် ကျပ် (၂၃.၇၃) သိန်းဖြစ်ကြောင်း တင်ပြထား ပါသည်။<br>- ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက်အမှတ်(၁) စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်း ရာ ကန့်ကွက်ရန်မရှိပါကြောင်းနှင့်ပုဂ္ဂလိကစက်မှု |

လုပ်ငန်းဥပဒေနှင့်အညီမှတ်ပုံတင်ဆောင်ရွက်နေခြင်း မရှိသေးပါကြောင်း၊ ၂၀၀၀ပြည့်နှစ်၊ ဇူလိုင်လ၃၁ရက်နေ့ထိ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီစက်မှုမှတ်ပုံတင်ထားပြီး ဖြစ်သောအထည်ချုပ်လုပ်ငန်းအရေအတွက်မှာ (၂၆၃) ခုရှိနေပြီး ဖြစ်ကြောင်း နှင့်အသည်ချုပ်လုပ်ငန်းအရေအတွက်မှာ များပြားနေပြီဖြစ်၍ တစ်စိုက်တစ်ခုသောအရေအတွက်အထိသာသတ်မှတ်ထားသင့်ပါကြောင်း ပြန်ကြားလာပါသည်။

- ယင်းလုပ်ငန်းကိုဆောင်ရွက်ရန်အတွက်မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနထံမှအဆိုပြုမြေနေရာကိုစစ်ဆေးရာ မြေကွက်အမှတ် ၄၅(က)နှင့် (ခ) အားပေါင်း၍ အုတ်ခြံစည်းရိုးကာထားပြီး မြေပေါ်တွင် ၁၂၀'x၁၆၇'ရှိ (၃) ထပ်အဆောက်အဦတစ်လုံးနှင့် ၂၀'x၆၀'ရှိ (၃) ထပ်ပုံခန်းအဆောက်အဦတစ်လုံး ဆောက်လုပ်လျက်ရှိပါကြောင်းနှင့်လုပ်ငန်းဆောင်ရွက်နေခြင်း မရှိသေးပါကြောင်း၊ လုပ်ငန်းဆောင်ရွက်ရန်သင့်တော်သည်ဟုယူဆပါကြောင်း သဘောထားပြန်ကြားလာပါသည်။

- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှခွင့်ပြုမိန့်ထုတ်ပေးပြီး အထည်ချုပ်လုပ်ငန်း (၉၄) ခုရှိပြီးဖြစ်ပါသည်။

- ပူးတွဲပါဥပဒေပုဒ်မ ၁၂ နှင့် ၁၃ အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။

e 3193 / 28/9    31220 / 28/9

အထွေထွေ အရပ်ရပ် – ၁၆

(ရုံးတွင်းစာ အကျဉ်းချုပ် သို့တည်းမဟုတ် စာကြမ်းရေးရန် အတွက်)

အကြောင်းအရာ။ ။ <u>စုစည်း ကမ္ဘာအထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက်မှ C M P စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော စုစည်းကမ္ဘာအထည်ချုပ်လုပ်ငန်း ကုမ္ပဏီလီမိတက် (United World Garment Manufacturing Co.,Ltd.) မှ ဒေါ်ခင်စန်းကြူနှင့်ဦးမြင့်ရွှေတို့၏အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်း ရွှေပြည်သာ မြို့နယ်၊ မြေတိုင်း ရပ်ကွက်အမှတ် ၄၂ (စက်မှုဇုန်) မြေကွက်အမှတ် ၄၅ (က နှင့် ခ) ရှိမြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင် မြေဧရိယာစုစုပေါင်း (၁.၃၇၈) ဧက (၅၅၇၆.၅၇၃ စတုရန်းမီတာ) ပေါ်ရှိ မြေနှင့်အဆောက်အဦကိုငှားရမ်း၍ C M P စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြချက်အား (၂၄-၈-၂၀၀၀) နေ့တွင်ကျင်းပပြုလုပ်သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ (၂၉/၂၀၀၀) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှ မူအားဖြင့်သဘောတူညီခဲ့ပြီး (၈-၉-၂၀၀၀) နေ့တွင်ကျင်းပသော ကုန်သွယ်မှုမူဝါဒ ကောင်စီ၏ (၁၁/၂၀၀၀) ကြိမ်မြောက်အစည်းအဝေးသို့ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေးမှ သဘောတူညီချက်အရအစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်နှင့်အညီ (၂၁-၉-၂၀၀၀) နေ့တွင်ကျင်းပပြုလုပ်သည့်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၃၆/၂၀၀၀) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာယင်းအစည်းအဝေးမှသဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။

၂/-




ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန
အမှတ်၊ ၂၂၈-၂၃၄၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ ရန်ကုန်မြို့။


R3172 17/8

3274 18/8

1337 18/8

စာအမှတ်၊ စီမံ/နဆစ/ပစလ-၁(၁)/၂၀၀၀/(၆၆၄)
ရက်စွဲ၊ ၂၀၀၀ပြည့်နှစ်၊ ဩဂုတ်လ ၁၁ ရက်၊

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း၊**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၇-၂၀၀၀ ရက်စွဲပါစာအမှတ်၊ ရက-၁/မ-၆၂၆/၂၀၀၀(၁၆၈၂-စ)

၁။ ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန်အပိုင်း (၁)၊ မြေတိုင်းရပ်ကွက်အမှတ်-၄၂၊ မြေကွက်အမှတ် ၄၅(က) နှင့် (ခ)၊ (၁.၃၇၇) ဧကရှိမြေပေါ်တွင် ရုစည်းကမ္ဘာအထည်ချုပ်လုပ်ငန်း ကုမ္ပဏီလီမိတက်မှ CMP စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုခြင်းနှင့်စပ်လျဉ်း၍၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှအထက်ရည်ညွှန်းချက်ပါစာဖြင့်သဘောထားမှတ်ချက် တောင်းခံလာပါသည်။

၂။ အဆိုပြုမြေနေရာကိုစစ်ဆေးရာ၊ မြေကွက်အမှတ် ၄၅(က) နှင့် (ခ) အား ပေါင်း၍အုတ်ခြံစည်းရိုးကာထားပြီး၊ မြေပေါ်တွင် ၁၂၀' × ၁၆၀' ရှိ (၃) ထပ် အဆောက်အဦတစ်လုံးနှင့် ၂၀' × ၆၀' ရှိ (၃) ထပ်ရုံးခန်းအဆောက်အဦတစ်လုံး ဆောက်လုပ်လျက်ရှိပါကြောင်းနှင့်လုပ်ငန်းဆောင်ရွက်နေခြင်းမရှိသေးပါကြောင်း တွေ့ရှိရပါသည်။

၃။ အဆိုပြုမြေနေရာတွင် ဖော်ပြပါလုပ်ငန်းကို ဆောင်ရွက်ရန်သင့်တော်သည်ဟု ယူဆပါကြောင်းနှင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ဆက်လက်တင်ပြနိုင်ပါရန်ပြန်လည်တင်ပြအပ်ပါသည်။

18/8

11/8/2000.

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(ထွန်းလင်း- ဒုတိယညွှန်ကြားရေးမှူး)

**ဝန်ကြီးရုံး၊**
**ဆောက်လုပ်ရေးဝန်ကြီးဌာန။**

မိတ္တူကို- (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
(၂) စီမံကိန်းမန်နေဂျာ၊ ရွှေပြည်သာစက်မှုဇုန်၊
(၃) ရုံးလက်ခံ၊
(၄) မျှောစာတွဲ၊

နောက်ဆက်တွဲ(၁)

ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသား

ရင်းနှီး မြှုပ်နှံမှု ပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# စုစည်း ကမ္ဘာ အထည်ချုပ် လုပ်ငန်း ကုမ္ပဏီ လီမိတက်

****************************************
****************************************

PROPOSAL OF THE INVESTOR TO MAKE

MYANMAR CITIZENS INVESTMENT IN THE

UNION OF MYANMAR

**UNITED WORLD GARMENT MANUFACTURING COMPANY LIMITED**

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

ပြည်ထောင်စုမြန်မာနိုင်ငံတော်

နေ့စွဲ။ ၂၀၀၀ပြည့်နှစ်၊ စက်တင်ဘာလ ( ၁၂ ) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များအားပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြနိုင်ရန်ပေးပို့ခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ကျွန်တော်များ **စုစည်းကမ္ဘာအထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက်**သည်ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အထည်ချုပ် လုပ်ငန်းလုပ်ကိုင်ရန်ရည်ရွယ်၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ခွင့်ပြုမိန့် လျှောက်ထားသည့် ကုမ္ပဏီဖြစ်ပါသည်။

ယခုအခါအထက်အဖွဲ့အစည်း၏ ဆုံးဖြတ်ချက်အရ ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရအဖွဲ့သို့ ဆက်လက် တင်ပြ နိုင်ရန်အတွက် အဆိုပြုလွှာများအားပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ကြိုင် မြင့်

( ဒါရိုက်တာ )

စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီလီမိတက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စုမြန်မာနိုင်ငံတော်

နေ့စွဲ။ ၂၀၀၀ပြည့်နှစ်၊ ဩဂုတ်လ ( ၂၈ ) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှ အဆိုပြုချက်များအထက်အဖွဲ့အစည်းသို့ ဆက်လက်တင်ပြနိုင်ရန်ပေးပို့ခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ကျွန်တော်များ စုစည်းကမ္ဘာအထည်ချုပ်လုပ်ငန်း ကုမ္ပဏီလီမိတက်သည်ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အထည်ချုပ်လုပ်ငန်းလုပ်ကိုင်ရန်ရည်ရွယ်၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ခွင့်ပြုမိန့်လျှောက်ထားသည့် ကုမ္ပဏီဖြစ်ပါသည်။

ယခုအခါကော်မရှင်၏ ဆုံးဖြတ်ချက်အရ အထက်အဖွဲ့အစည်းသို့ဆက်လက်တင်ပြနိုင်ရန်အတွက် အဆိုပြုလွှာ (၁၈) စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ဦးရဲမြင့်
( ဒါရိုက်တာ )
စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီလီမိတက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

ပြည်ထောင်စုမြန်မာနိုင်ငံတော်

နေ့စွဲ။ ၂၀၁၀ပြည့်နှစ်၊ ဇူလိုင်လ ( ၁၄ ) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ အဆိုပြုချက်များပေးပို့ခြင်း။

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်များစုစည်းကမ္ဘာအထည်ချုပ်လုပ်ငန်း ကုမ္ပဏီလီမိတက်သည်ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အထည်ချုပ်လုပ်ငန်းလုပ်ကိုင်ရန်ရည်ရွယ်၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ခွင့်ပြုမိန့် လျှောက်ထားသည့် ကုမ္ပဏီဖြစ်ပါသည်။

သို့ပါ၍ကျွန်တော်များစုစည်းကမ္ဘာအထည်ချုပ်လုပ်ငန်း ကုမ္ပဏီလီမိတက်၏အဆိုပြုလွှာကိုလိုအပ်သလို စိစစ်ပေးနိုင်ရန်အတွက် အဆိုပြုလွှာ ( ၆ ) စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ဦးရဲမြင့်

( ဒါရိုက်တာ )

စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီလီမိတက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

ပြည်ထောင်စုမြန်မာနိုင်ငံတော်

နေ့စွဲ။ ၂၀၀၀ ပြည့်နှစ်၊ ဇူလိုင်လ (၁၄) ရက်။

အကြောင်းအရာ။ ။ <u>ပြည်ထောင်စုမြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့်သက်သာခွင့်များ လျှောက်ထားခြင်း။</u>

အထက်ပါ အကြောင်းအရာနှင့် ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်များ စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်းကုမ္ပဏီလီမိတက် သည် ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ရွှေပြည်သာစက်မှု ဇုန် (၁)၊မြေတိုင်းရပ်ကွက်အမှတ်-၄၂၊မြေကွက်အမှတ်(၄၅-က)၊(၀. ၆၈၉)ဧကရှိမြေကွက်နှင့် မြေကွက်အမှတ်-(၄၅-ခ)၊(၀. ၆၈၉)ဧက၊စုစုပေါင်း(၁. ၃၇၈)ဧကအကျယ်အဝန်းရှိသောမြေနေရာတွင် (C.M.P) စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းလုပ်ကိုင်သည့် စက်ရုံကိုတည်ဆောက်၍ ပြည်ထောင်စုမြန်မာ နိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မှီအဝတ်အထည်အမျိုးမျိုးကိုစက်ကိရိယာများဖြင့် ထုတ်လုပ်ခွင့်ရရှိ ရန်အတွက် ရည်ရွယ်၍ ပြည်ထောင်စုမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

ကျွန်တော်များ ကုမ္ပဏီလီမိတက်သည်(C.M.P)စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း လုပ်ကိုင်သည့် စက်ရုံကိုတည်ဆောက်ရာတွင်ခေတ်မီစက်ကိရိယာများကို Great Capital Garment Limited, Hong Kong မှ ရွှေဆိုင်းငွေပေးချေစနစ်( Deferred Payment System )ဖြင့်စက်ကိရိယာများကိုဝယ်ယူတင်သွင်းပြီး ( ၃ ) နှစ်အတွင်း ပြန်လည်ပေးဆပ်ပါမည်။

ကျွန်တော်များကုမ္ပဏီအနေဖြင့်ယခုအဆိုပြုလုပ်ငန်းအတွက်ရင်းနှီးငွေစုစုပေါင်းကျပ်(၂၅. ၇)သန်း ကို နိုင်ငံခြားချေးငွေနှင့်ပြည်တွင်းသုံးငွေတို့ဖြင့်ထည့်ဝင်မည်ဖြစ်ပါသည်။နိုင်ငံခြားချေးငွေ(အမေရိကန်ဒေါ်လာ ၁. ၂) သန်းကိုစက်ပစ္စည်းများဝယ်ယူတင်သွင်း၍ကျပ်( ၁၈. ၅)သန်းတိတိကိုထည့်ဝင် ရင်းနှီး မြှုပ်နှံမည် ဖြစ်ပါသည်။

ကျွန်တော်များကုမ္ပဏီသည်နှစ်စဉ်အထည်မျိုးစုံကိုချုပ်လုပ်သွားရန်ရည်မှန်းထားရှိပြီး ချုပ်လုပ်ပြီးအထည်များ၏ (၉၅%) ကိုC.M.Pစနစ်အရ နိုင်ငံခြားကုမ္ပဏီများသို့ ပြန်လည် တင်ပို့ မည်ဖြစ်ပြီးကျန်( ၅ )% ကိုမူ ပြည်တွင်းတွင်ရောင်းချမည်ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ နိုင်ငံတော်အတွင်း၌ ရသင့်ရထိုက်သောအခွန်ဘဏ္ဍာငွေများရရှိစေရန်အတွက်လည်း ကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင် အခွင့်အလမ်းများရရှိစေရန်အတွက်လည်းကောင်း၊စက်မှု နည်း ပညာရပ်များတိုးပွားရရှိစေရန်အတွက်လည်းကောင်း၊နိုင်ငံသားများစီးပွားရေးဖွံ့ဖြိုးတိုးတက်စေခြင်းအလို့ငှာ လည်းကောင်း၊ကျွန်တော်များ**စုစည်းကမ္ဘာအထည်ချုပ်လုပ်ငန်း ကုမ္ပဏီလီမိတက်** ၏မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော် မြန်မာ နိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ကိုလည်းပေးပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါ အထောက်အထား စာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်-

(၁) ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ ၏လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်၊

(၂) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊

(၃) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ၊

(၄) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ။

ရိုသေလေးစားစွာဖြင့်

ဦးရဲမြင့်
( ဒါရိုက်တာ )
စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်းကုမ္ပဏီလီမိတက်

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စုမြန်မာနိုင်ငံတော်

နေ့စွဲ။ ၂၀၀၀ပြည့်နှစ်၊ ဇူလိုင်လ [illegible]

အကြောင်းအရာ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိခံဝန်ချက်များပေးပို့ခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ကျွန်တော်များ စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် အထည်ချုပ်လုပ်ငန်းလုပ်ကိုင်နိုင်ရန် [illegible] မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ [illegible] လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသား များသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိကြောင်းနှင့် အောက်ပါအချက်များကို သိရှိလိုက်နာမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

၁။ ကျွန်တော်များကုမ္ပဏီအနေဖြင့်လုပ်ငန်းဆောင်ရွက်ရာတွင်လည်းကောင်း၊ပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက်လည်းကောင်း၊လိုအပ်သောအစီအမံများ၊ကြိုတင်ကာကွယ်မှုများပြုလုပ် ဆောင်ရွက် ထားမည် ဖြစ်ကြောင်းနှင့်မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါ ကြောင်း ဝန်ခံကတိပြုပါသည်။

၂။ စုစည်းကမ္ဘာအထည်ချုပ်လုပ်ငန်းကုမ္ပဏီလီမိတက်သည် လုပ်ငန်းအတွက် ပြည်ပမှ စက် ပစ္စည်း များ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများကို ချေးငွေသဘောတူစာချုပ် ( Deferred Payment Loan Agreement ) ဖြင့် စက်ပစ္စည်းအသစ်များကိုသာ ဝယ်ယူတင်သွင်းပြီး ပြန်လည်ပေးဆပ်သည့်အခါ အဆိုပြု လုပ်ငန်းမှရရှိသည့် C.M.P ချုပ်ခ ဖြင့်သာပေးဆပ်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

၃။ စုစည်းကမ္ဘာအထည်ချုပ်လုပ်ငန်းကုမ္ပဏီလီမိတက် သည် လုပ်ငန်းအတွက်ရွှေ့ဆိုင်းငွေပေးချေ စနစ် ဖြင့် ပြည်ပမှစက်ပစ္စည်းများ၊စက်အရန်ပစ္စည်းများ၊လုပ်ငန်းသုံးပစ္စည်းများကိုရယူဆောင်ရွက်ခြင်းသည် နိုင်ငံ တော်နှင့်သက်ဆိုင်ခြင်းမရှိဘဲ ငွေချေးသူ၏ တာဝန်သာ လျှင်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၄။ ထို့ပြင် နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ် ချက် များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

၅။ ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

ဦးရဲမြင့်
(ဒါရိုက်တာ)



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

[ ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈ ]

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

စာအမှတ်၊

ရက်စွဲ ၊ ၂၀၀၀ ပြည့်နှစ်၊ဇူလိုင် လ၊ ( ၁၄ ) ရက်။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံလိုပါသဖြင့်ခွင့်ပြုမိန့်ထုတ်ပေးပါရန်အောက်ပါအချက်များဖော်ပြ၍လျှောက်ထားအပ်ပါ သည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

| | | | |
|---|---|---|---|
| (က) | အမည် | - | ဦးရဲမြင့် |
| (ခ) | အဖအမည် | - | ဦးမြင့်ကြည် |
| (ဂ) | နိုင်ငံသား / အမျိုးသားမှတ်ပုံတင်အမှတ် | - | ၁၂/တမန(နိုင်)၀၅၇၉၉၅ |
| (ဃ) | နေရပ်လိပ်စာ | - | အမှတ်-၂၊ဒဂုံလွင်လမ်း၊တာမွေမြို့နယ်၊ ရန်ကုန်မြို့။ |
| (င) | လူမျိုး၊ ဘာသာ | - | ဗမာ/ဗုဒ္ဓ |
| (စ) | အဖွဲ့အစည်းအမည် | - | စုစည်းကမ္ဘာအထည်ချုပ်လုပ်ငန်းကုမ္ပဏီ လီမိတက် |
| (ဆ) | လုပ်ငန်းအမျိုးအစား | - | အထည်ချုပ်လုပ်ငန်း |
| (ဇ) | အဖွဲ့အစည်းတည်နေရာအရပ် | - | အမှတ်-၄၅(က/ခ)၊ကနောင်မင်းကြီးလမ်း၊ ရွှေပြည်သာစက်မှုဇုန်(၁)၊ ရန်ကုန်မြို့။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏ -

(က) အမည် (၁) ------------------------ (၂) ------------------------

------------------------ ------------------------

(ခ) အဖအမည်(၁) ------------------------ (၂) ------------------------

------------------------ ------------------------

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်

(၁) -------------------------- (၂) --------------------------

-------------------------- --------------------------

(ဃ) နေရပ်လိပ်စာ

(၁) -------------------------- (၂) --------------------------

-------------------------- --------------------------

(င) လူမျိုးဘာသာ

(၁) -------------------------- (၂) --------------------------

-------------------------- --------------------------

(စ) အဖွဲ့အစည်းအမည် ----------------------------------------------------------------

(ဆ) လုပ်ငန်းအမျိုးအစား ----------------------------------------------------------------

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် ----------------------------------------------------------------

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ ခုထက်ပိုပါက သီးခြားစာရွက်တွင်ဖော်ပြပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား -

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း - အထည်ချုပ် လုပ်ငန်း

(C.M.P - စနစ်ဖြင့် )

(ခ) ဝန်ဆောင်မှုလုပ်ငန်း - ------------------------------------------------

(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှုအမျိုးအစားကိုဖော်ပြရန်)

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ -

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

-------------------------- မရှိပါ --------------------------

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

-------------------------- မရှိပါ --------------------------

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန် -

(က) တစ်ဦးတည်းပိုင် - ------------------------------------------------

(ခ) ဖက်စပ် / အစုစပ်လုပ်ငန်း - ------------------------------------------------

(ဂ) လီမိတက်ကုမ္ပဏီ - **စုစည်းကမ္ဘာ အထည်ချုပ်လုပ်ငန်းကုမ္ပဏီလီမိတက်**

(ဃ) သမဝါယမအသင်း - ---------------------------------------------------

(အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ/အများပိုင်ကုမ္ပဏီဟုဖော်ပြ၍ ထည့်ဝင်မည့် မ,တည်ငွေရင်းအမျိုးအစား၊ စီမံခန့်ခွဲသူ/စီမံခန့်ခွဲမည့် နောက်ဆက်တွဲ (၁) သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကိုပူးတွဲတင်ပြရန်)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက -

(က) အစုစပ်တို့က ထည့်ဝင်မည့်အစုငွေ အချိုးအစားနှင့်ပမာဏ

---------------------------------------------------------------------------

(ခ) အကျိုးအမြတ်ခွဲဝေမည့်အမျိုးအစား ----------------------------------------------

(ဂ) အစုဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ ------------------------------------------

(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)

၇။ သမဝါယမအသင်း/လီမိတက်ကုမ္ပဏီဖြစ်ပါက -

(က) ခွင့်ပြုမတည်ငွေရင်း - ကျပ် ၅၀၀,၀၀၀,၀၀၀/-

(ခ) အစုရှယ်ယာ အမျိုးအစား - တစ်စုလျှင် ကျပ် ၁၀,၀၀၀/- တန်အစုရှယ်ယာ (၅၀,၀၀၀) စု

(ဂ) အစုရှယ်ယာများကထည့်ဝင်မည့်အစုရှယ်ယာ ပမာဏ - ( ၂၀၀၀ ) စု

ကျပ်- ၂၀,၀၀၀,၀၀၀/- တိတိ

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ -

(က) မတည်ငွေရင်းပမာဏ (ထောင်ပေါင်း)

| | ကိုယ်ပိုင် ကျပ် | နိုင်ငံခြားငွေ US$ | စုစုပေါင်း ကျပ် |
|---|---|---|---|
| (၁) ငွေပမာဏ - | ၁၅၀၀၀ | | ၁၅၀၀၀ |
| (နိုင်ငံခြား မ,တည်ငွေပါဝင်ပါကသီးခြားဖော်ပြရန်) | | | |
| (၂) စက်ပစ္စည်းကရိယာများ တန်ဖိုးပမာဏ (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) **နောက်ဆက်တွဲ ၂** | - | ၁၂၀၀ | ၇၂၀၀ |
| (၃) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) **နောက်ဆက်တွဲ ၃** | ၃၅၀၀ | - | ၃၅၀၀ |
| (၄) ကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ - **နောက်ဆက်တွဲ ၄** (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) | | | |
| စုစုပေါင်း | ၁၈၅၀၀ | ၁၂၀၀ | ၂၅၇၀၀ |

(စက်ပစ္စည်းကိရိယာများ US$ 1,200,000/-ကို ဟောင်ကောင်ရှိ Great Capital Garment Limited, ထံမှ ရွှေဆိုင်းငွေပေးချေစနစ် (Deferred Payment System) အရအကြွေးစနစ်ဖြင့် ဝယ်ယူမည်ဖြစ်ပါသည်။

| | ကျပ် | US$ |
|---|---|---|
| (ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့် | | |
| (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့် ပစ္စည်းတို့၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်)နောက်ဆက်တွဲ -၂ | ၇၂၀၀ | ၁၂၀၀ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြား အလားတူပစ္စည်းများ၏တန်ဖိုး | | |
| စုစုပေါင်း | ၇၂၀၀ | ၁၂၀၀ |

(ဂ) တည်ဆောက်မှုကာလ (စက်တပ်ဆင်ခြင်း ) - (၃) လ

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ - (၁) လ

(င) တည်ဆောက်မှု စတင်မည့်အချိန် - ခွင့်ပြုမိန့်ရရှိပြီး (၁) လအတွင်း

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ -

(က) လုပ်ငန်းအမျိုးအစား - အထည်ချုပ်လုပ်ငန်း ( C.M.P စနစ်ဖြင့် )

(ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုလုပ်ငန်း စသည်ဖြင့်ဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ - မြေတိုင်းအမှတ်- (၄၂) ၊ မြေကွက်အမှတ်- ၄၅ (က/ခ) ရွှေပြည်သာစက်မှုဇုန်(၁)၊ ရွှေပြည်သာမြို့နယ်၊ရန်ကုန်တိုင်း

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - ခေတ်မီစက်များ၊နည်းပညာများဖြင့် အဆင့်အတန်းမြင့်မားသည့်အဝတ်အထည်များချုပ်လုပ်မည်ဖြစ်ပါသည်။

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက် -

| (၁)ဒီဇယ်ဆီ(ဂါလံ) | (၂) ဓါတ်ဆီ(ဂါလံ) | (၃) စက်ဆီ/ချောဆီ (ဂါလံ) |
|---|---|---|
| ၅၀၀၀ | ၃၀၀၀ | ၅၀၀ |

(င) နှစ်စဉ် လျှပ်စစ်ဓါတ်အားလိုအပ်ချက် -

၁။ လျှပ်စစ်ဓါတ်အား — တနေ့လျှင် ၂၅၀ ကီလိုဝပ်

၂။ ဓါတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား — 300 HP

၃။ ဘွိုင်လာ အသုံးပြုအင်ဂျင်စက်အား

၄။ သဘာဝဓာတ်ငွေ့သုံးစက်အား

